





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ်-ဧရာ-၀၀၄/၂၀၁၇ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ၂၉ ရက်

ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးလှမော်မြင့်မောင်

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-ည/၇၃၊ ယုဇနလမ်း၊ ဘုရင့်နောင်(၁)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက်၊ အမှတ်-ည/၇၃၊ ယုဇနလမ်း၊ ဘုရင့်နောင်(၁)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဆန်စပါးအခြေခံ တန်ဖိုးမြှင့်ဆန် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (Manufacturing and Marketing of Value Added Rice)

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ အစွဲကျေးရွာအုပ်စု၊ ကွင်းအမှတ်-၃၄၉ (အမြောင်ကွင်း)၊ ဦးပိုင်အမှတ်-၈၃/၃၊ ၈၄/၄၊ ၈၅/၁၊ ၈၆၊ ၈၉/၂ ရှိ မြေဧရိယာ (၄.၀၅) ဧက

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၅,၉၇၅.၆၂ သန်း

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၂ နှစ်

(၁၂) အတည်ပြုမိန့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက် (SHWE WAH NADI AGRICULTURE PRODUCTION COMPANY LIMITED)



ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**
OSS စုပေါင်းရုံး၊ မြက်တို၊ ပုသိမ်မြို့

စာအမှတ်၊ ရေက/ အ-၀၀၄/မ(ထုတ်လုပ်မှု)/၂၀၁၇(၁၃၈-ဃ)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာ လ ၂၉ ရက်

အကြောင်းအရာ။ **ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) ၏ ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးအခြေခံ တန်ဖိုးမြှင့်ဆန် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း(Manufacturing and Marketing of Value Added Rice) အတည်ပြုမိန့်အပေါ် ရောဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏၂၆-၉-၂၀၁၇ ရက်စွဲပါတင်ပြစာ

၁။ ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) မှ ရောဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ အစွဲကျေးရွာအုပ်စု၊ ကွင်းအမှတ်-၃၄၉ (အမြောင်ကွင်း)၊ ဦးပိုင်အမှတ်-၈၃/၃၊ ၈၄/၄၊ ၈၅/၁၊ ၈၆၊ ၈၉/၂ ရှိ မြေ ၄.၀၅ ဧကတွင် ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးအခြေခံ တန်ဖိုးမြှင့်ဆန် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာတင်ပြခြင်းအား ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရောဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၄/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ရောဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) အား ဆန်စပါးအခြေခံ တန်ဖိုးမြှင့်ဆန် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း(Manufacturing and Marketing of Value Added Rice) ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ရော-၀၀၄/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) အနေဖြင့် ဤအတည်ပြုမိန့် အရ ဆန်စပါး အခြေခံ တန်ဖိုးမြှင့်ဆန် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း(Manufacturing and Marketing of Value Added Rice) ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များ နှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင်မူလအတည်ပြုလျှောက်ထားလွှာ၌ဖော်ပြထားသည့် ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

(င) ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလ အတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဆ) ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရဖြစ်စေ၊ အခြား လိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(မန်းဂျော်နီ)
ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

ရွှေဝါနဒီစိုက်ပျိုးရေးထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.)

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
OSS စုပေါင်းရုံး၊ မြက်တို၊ ပုသိမ်မြို့

စာအမှတ်၊ ဧရက/အ-၀၀၄/မ(ထုတ်လုပ်မှု)/၂၀၁၇(၁၃၅-၃၀)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာ လ ၂၉ ရက်

အကြောင်းအရာ။ ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) မှ ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးအခြေခံ တန်ဖိုးမြှင့်ဆန် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (Manufacturing and Marketing of Value Added Rice) အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

၁။ ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) မှ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ အစွဲကျေးရွာအုပ်စု၊ ကွင်းအမှတ်-၃၄၉ (အမြောင်ကွင်း)၊ ဦးပိုင်အမှတ်-၈၃/၁၊ ၈၄/၄၊ ၈၅/၁၊ ၈၆၊ ၈၉/၂ ရှိ မြေ ၄.၀၅ ဧကတွင် ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးအခြေခံ တန်ဖိုးမြှင့်ဆန် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာတင်ပြခြင်းအား ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၄/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၃၀ အရ ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) မှ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေ ၄.၀၅ ဧက နှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့် ကိုက်ညီမှုရှိစေရန်အတွက်မြေအသုံးချမှုပြောင်းလဲရန်လိုအပ်လျှင်ဖြစ်စေ သို့မဟုတ် အလားတူဥပဒေဆိုင်ရာလုပ်ငန်းစဉ်အားပြီးမြောက်အောင်ဆောင်ရွက်ရန်လိုအပ်လျှင်ဖြစ်စေရင်းနှီးမြှုပ်နှံသူသည်အသုံးချမှုပြောင်းလဲခြင်းအတွက်ဥပဒေနှင့်အညီ မြေအသုံးချမှု ပြောင်းလဲခြင်း လုပ်ငန်းစဉ်အား အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၃။ သို့ဖြစ်ပါ၍ ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.) အနေဖြင့် အထက်အပိုဒ်(၂)ပါအချက်အား သိရှိနိုင်ပါရန်နှင့် လိုက်နာဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

29/12/2017

ဥက္ကဋ္ဌ (ကိုယ်စား)
(စိုးအောင်၊ အတွင်းရေးမှူး)

ရွှေဝါနဒီ စိုက်ပျိုးရေးထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Wah Nadi Agriculture Production Co., Ltd.)
မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ